ကုမ္ပဏီအမည် - Asia Win Manufacturing Co., Ltd.

လုပ်ငန်း - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်ခွဲသားနှင့် သစ်အချောထည် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၄-၁၀၂၀၁၄ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စီမံကိန်း စီစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၂၁-၁၀-၂၀၁၄ | ၃၁-၁၀-၂၀၁၄ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (ပထမအကြိမ်) | ၂၂-၁၀-၂၀၁၄ | | |
| | ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (ဒုတိယ အကြိမ်) | ၇-၁၁-၂၀၁၄ | ၁၉-၁၁-၂၀၁၄ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (ပထမအကြိမ်) | ၂၂-၁၀-၂၀၁၄ | | |
| | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (ဒုတိယ အကြိမ်) | ၁၃-၁၁-၂၀၁၄ | ၁၈-၁၁-၂၀၁၄ | |
| | (ဃ) စက်မှုဝန်ကြီးဌာန (ပထမအကြိမ်) | ၂၂-၁၀-၂၀၁၄ | ၁၀-၁၁-၂၀၁၄ | |
| ၃ | PAT တင်ပြခြင်း | ၂၀-၁၁-၂၀၁၄<br>၄၁/၂၀၁၄ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂၁-၁၁-၂၀၁၄ | | |
| ၅ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၂၈-၁၁-၂၀၁၄ | | |
| ၇ | ကုမ္ပဏီမှ အဆိုပြုချက် ပြန်လည်ပြင်ဆင် တင်ပြလာသည့်နေ့ | ၂၁-၁၁-၂၀၁၄ | | တွက်ချက်မှုများပြန်လည်ပြင်ဆင်ခြင်းဖြစ်ပါသည်။ |
| ၈ | ကုမ္ပဏီမှ အဆိုပြုချက် (၈)စုံ ပေးပို့ခြင်း | ၂၅-၁၁-၂၀၁၄ | | |
| | **စုစုပေါင်းကြာမြင့်ချိန်** | **၄၃ ရက်** | | |

| | |
|---|---|
| ကုမ္ပဏီအမည် | Asia Win Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ရာခိုင်နှုန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | သစ်ခွဲသားနှင့် သစ်အချောထည် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်ဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန် (၁)၊ လှေသင်းအတွင်းဝန်ဦးချိန်လမ်း၊ အမှတ်-၃၀ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ်၉၄၈.၆၀ သန်း |
| ရောင်းချမည့်စနစ် | ပြည်တွင်း၊ ပြည်ပ |
| လုပ်ငန်းသက်တမ်း | ကနဦး ၃၀ နှစ် |
| အရင်းကြေကာလ | ၅ နှစ် နှင့်၉ လ |
| IRR | ၂၃.၀၀% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၁.၅၄၈ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၅၁.၃၀၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | ၈၃.၆၀၀ | ၁၄၆.၃၀၀ |
| ၅ | ဝင်ငွေခွန် | ၁၂၀.၈၈၈ | ၇၄၄.၈၀၀ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၀.၂၉၃ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ် ထက်ကျော်ပါ အခွန်ပေးရမည့် ဝန်ထမ်း(၇၈)ဦး |
| ၈ | CSR (၂%) | | ၂၃.၇၅ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၅၀ ဦး<br>ပြည်ပ ၇ ဦး<br>ပြည်တွင်းလုပ်သား (၁၅၀)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှု ကို အထောက်အကူ ပြုစေပါသည်။ |
| | | ၂၅၇.၃၄ | ၉၁၆.၃၁ |
| | Cost & Benefit | ၁:၄ | |

အကြောင်းအရာ။ Asia Win Manufacturing Co., Ltd. မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်ပါးလွှာ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Asia Win Manufacturing Co., Ltd.<br>- ဦးဇော်ဝင်း (အဘ-ဦးအမ်ဂနီ)<br>(မန်နေဂျင်းဒါရိုက်တာ) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - သစ်ခွဲသားနှင့် သစ်အချောထည် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| ၂။ | လုပ်ငန်းတည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်ဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ လှေသင်းအတွင်းဝန်ဦးချိန်လမ်း၊ မြေကွက်အမှတ်-၃၀ |
| | မြေအကျယ်အဝန်း | - ၁.၉၁၉ ဧက၊ (၇,၇၆၅.၉၂ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၈၀' x ၂၅၄' ရှိ အဆောက်အဦတစ်လုံး<br>- ၃၀' x ၂၀' ရှိ ရုံးခန်းအဆောက်အဦတစ်လုံး |
| ၃။ | မြေငှားရမ်းခ | - တစ် နှစ်လျှင် ကျပ် ၁၂.၀ သန်း<br>တစ်နှစ် တစ်စတုရန်းမီတာလျှင် ၁၅၄၅.၂၁ ကျပ်နှုန်း |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀နှစ် |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | **- ကျပ် ၉၄၈.၇၀ သန်း** |

| ထည့်ဝင်သည့်အမျိုးအစား | ကျပ် (သန်းပေါင်း) | US$ (သန်းပေါင်း) | စုစုပေါင်း ကျပ် (သန်းပေါင်း) |
|---|---|---|---|
| - ငွေပမာဏ | ၅၀.၀၀ | | ၅၀.၀၀ |
| - လျှပ်စစ်တပ်ဆင်ခြင်း | | ၀.၀၆၂ | ၅၈.၉၀ |
| - စက်ပစ္စည်းကိရိယာများ | | ၀.၈၈၄ | ၈၃၉.၇၀ |
| **စုစုပေါင်း** | **၅၀.၀၀** | **၀.၉၄၆** | **၉၄၈.၆၀** |

| | | |
|---|---|---|
| ၆။ | ရောင်းချမည့် နည်းစနစ် | - ၉၀% ပြည်ပပို့၊ ၁၀% ပြည်တွင်းရောင်း |
| ၇။ | ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - US$ ၄.၇၀၅ သန်း |
| | အသုံးစရိတ် | - US$ ၄.၃၆၀ သန်း |
| | အသားတင်အမြတ် | - US$ ၀.၃၃၅ သန်း |
| ၈။ | ဝန်ထမ်းအင်အား | **- (၁၅၇) ဦး** |
| | ပြည်တွင်း | - (၁၅၀) ဦး(ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနည်းဆုံးလစာ ကျပ် ၁.၀ သိန်းနှင့် အမြင့်ဆုံးလစာမှာ ကျပ် ၅.၀ သိန်း) |
| | ပြည်ပ | - (၇)ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ US$ ၂,၀၀၀) |

| | | |
|---|---|---|
| ၁၀။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (ဆဌမမြောက်နှစ်) | |
| | ဝင်ငွေခွန် | - US$ ၀.၁၁၂ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၀၂၂ သန်း |
| | အရင်းကြေကာလ | - ၅ နှစ် နှင့် ၉ လ |
| | အရင်းအနှီးပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၃% |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၆၂၀,၀၀၀ Unit |
| ၁၂။ | CSR | - ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ စောင့်ကြည့်လေ့လာမည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေး၊ စက်ရုံဝန်းကျင်ရှိ ရပ်ကွက်များအတွက် ပရဟိတလုပ်ငန်းများတွင် သုံးစွဲနိုင်ရန် အသားတင် အမြတ်ငွေမှ ၂%ကို ရန်ပုံငွေအဖြစ် လျာထားသည့် အစီအစဉ် တင်ပြထားပါသည်။ |
| ၁၃။ | မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု အစီအစဉ် | - မြေအောက်ကွန်ကရစ် ရေကန်(၂)လုံး၊ အဆင်သင့် အသုံးပြုနိုင်ရန် မော်တာနှင့် ရေစုပ်စက်အပါအဝင် မီးသတ်ပိုက်နှင့် ပိုက်ခေါင်း(၂)စုံ၊ မီးသတ်ဆေးဘူးများ၊ သဲပုံး၊ ရေပုံးများ၊ မီးချိတ်၊ မီးကတ်တို့ဖြင့် မီးသတ်စင်(၅)စင်ကို စက်ရုံဝင်းအတွင်း အသင့်အနေအထားဖြင့် ထားရှိမည် ဖြစ်ကြောင်း၊ စက်ရုံ၏ ဘေးထွက်ပစ္စည်းနှင့် အမှိုက်များကို စည်ပင်သာယာရေး ကော်မတီရုံး၏ ညွှန်ကြားချက်အရ စနစ်တကျ စွန့်ပစ်ရန်ဖြစ်ကြောင်း၊ အခြေခံမီးသတ် သင်တန်းများသို့ စက်ရုံမှ အလုပ်သမား (၁၀) ဦးကို တက်ရောက်စေပြီး မီးကာကွယ် ငြိမ်းသတ်ရေးအဖွဲ့များ ဖွဲ့စည်းထားရှိမည် ဖြစ်ကြောင်း စသည့် အစီအစဉ်များကို တင်ပြထားပါသည်။ |

ကန့်သတ်

၅

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၂/ မ- ၂၀၂ / ၂၀၁၄ (၀၂၁၀-က)
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၂ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **Asia Win Manufacturing Company Limited မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်ခွဲသားနှင့် သစ်အချောထည် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ Asia Win Manufacturing Company Limited သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်ဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ လှေသင်းအတွင်းဝန် ဦးချိန်လမ်း၊ မြေကွက်အမှတ်-၃၀ မြေအကျယ် ၁.၉၁၉ ဧက၊ (၇,၇၆၅.၉၂ စတုရန်းမီတာ)တွင် သစ်ခွဲသားနှင့် သစ်အချောထည် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဇော်ဝင်း(အဘ-ဦးအမ်ဂနီ)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၁.၉၁၉ ဧက၊ (၇,၇၆၅.၉၂ စတုရန်းမီတာ) ဖြစ်ပြီး ၈၀' x ၂၅၄' အကျယ်အဝန်းရှိ အဆောက်အဦ (၁) လုံးနှင့် ၃၀' x ၂၀' အကျယ်အဝန်းရှိ ရုံးခန်း အဆောက်အဦ (၁) လုံး ပါဝင်ပါသည်။ မြေပိုင်ရှင် ဦးဇော်ဝင်းနှင့် မြေငှားသူ အာရှဝင်းထုတ်လုပ်မှု လုပ်ငန်းကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ် (မူကြမ်း) ကို တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ ကျပ် ၉၄၈.၇၀ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|
| (က) | ငွေပမာဏ | ၅၀.၀၀ | | ၅၀.၀၀ |
| (ခ) | လျှပ်စစ်တပ်ဆင်ခြင်း | | ၀.၀၆၂ | ၅၈.၉၀ |
| (ဂ) | စက်ပစ္စည်းကိရိယာများ | | ၀.၈၈၄ | ၈၃၉.၇၀ |
| | **စုစုပေါင်း** | ၅၀.၀၀ | ၀.၉၄၆ | ၉၄၈.၆၀ |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၁၅၀) ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်း ဦးရေ (၇) ဦး စုစုပေါင်း (၁၅၇) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပဝန်ထမ်း တစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၂,၀၀၀ ဖြစ်ပါသည်။

ကန့်သတ်

၅။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်ပသို့ ၉၀% တင်ပို့၍ ပြည်တွင်း၌ ၁၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်)ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| စဉ် | ပစ္စည်း အမျိုးအစား | ပြည်ပပို့ ၉၀% | | ပြည်တွင်းရောင်း ၁၀% | |
|---|---|---|---|---|---|
| | | ထုတ်လုပ်မှု (CBM) | ရောင်းဈေးနှုန်း (ကျပ်/ CBM) | ထုတ်လုပ်မှု (CBM) | ရောင်းဈေးနှုန်း (ကျပ်/CBM) |
| (က) | Scartling | ၁,၃၅၂ | ၉၅၀ | ၁၅၀ | ၈၇၀,၀၀၀ |
| (ခ) | Board | ၂,၇၀၄ | ၁,၁၀၀ | ၃၀၀ | ၉၈၀,၀၀၀ |

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် (ဆဋ္ဌမမြောက်နှစ်) တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | အမေရိကန်ဒေါ်လာ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၄.၇၀၅ သန်း |
| (ခ) | အသုံးစရိတ် | - | ၄.၃၆၀ သန်း |
| (ဂ) | အသားတင်အမြတ် | - | ၀.၃၄၅ သန်း |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေအနေဖြင့် ဝင်ငွေခွန်မှာ အမေရိကန်ဒေါ်လာ ၀.၁၁၂ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန်မှာ အမေရိကန်ဒေါ်လာ ၀.၀၂၂ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၅နှစ် နှင့် ၉ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၃% ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် မြို့ပြစီမံကိန်းကို ထိခိုက်မှု မရှိကြောင်း၊ စက်ရုံလည်ပတ်ချိန်တွင် ဝန်ထမ်း (၁၅၀) ဦး အထိ ခန့်ထားဆောင်ရွက်မည့် လုပ်ငန်းဖြစ်သည့်အတွက် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးမှုအတွက် အထောက်အကူဖြစ်ပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိကြောင်း သဘောထားပြန်ကြားထားပါသည်။

နောက်ဆက်တွဲ-က

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး၊ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းအစီအမံများ ထည့်သွင်း ဆောင်ရွက်ရန်၊ သစ်အခြေခံကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေနိုင်ရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (IEE) ဆောင်ရွက်ပြီး အစီရင်ခံစာ တင်ပြရန်၊ အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေစသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး စီမံချက် (EMP) ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာအရ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ရေရှည်ကုန်ကြမ်းရရှိရေးအတွက် ကုမ္ပဏီပိုင်သစ်တောစိုက်ခင်းများ တည်ထောင်ဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ ကျင့်သုံးလျက်ရှိသော သစ်တောဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာ ကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ လုပ်ငန်းအမျိုးအား ပြောင်းလဲတင်ပြထားပြီး ဖြစ်ပြီး ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီရင်ခံစာများကိုလည်း ဆက်လက်တင်ပြ သွားမည် ဖြစ်ပါသည်။)**

**နောက်ဆက်တွဲ -ခ**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

နောက်ဆက်တွဲ-ဂ

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်တွင် Asia Win Manufacturing Company Limited အမည်ဖြင့် ၂၄-၁၁-၂၀၁၄ နေ့တွင် အမေရိကန်ဒေါ်လာ ၂၀,၁၈၆.၉၄ ရှိကြောင်း အထောက်အထားတင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ ကုမ္ပဏီသည် လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်း ကိရိယာများ၊ မီးဘေးကာကွယ်ရေး စီမံချက်၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့်အခြေအနေ၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်နှင့် ကျန်းမာရေး စောင့်ရှောက်မှု အစီအစဉ်များ၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သန့်ရှင်းသာယာရေး စီမံချက် အစီအစဉ်နှင့် လုပ်ငန်း သဘောသဘာဝ၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ်များကို တင်ပြထား ပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၂။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၄၁/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၂။ **စိစစ်တင်ပြချက်**

(က) လုပ်ငန်းဆောင်ရွက်မည့်မြေသည် ရင်းနှီးမြှုပ်နှံသူ ဦးဇော်ဝင်းကိုယ်တိုင် ပိုင်ဆိုင်သော မြေဖြစ်သဖြင့် ၎င်း၏ မိသားစုဝင်များဖြင့် ဖွဲ့စည်းထူထောင်ထားသည့် Asia Win Manufacturing Company Limited အား လုပ်ငန်းဆောင်ရွက်ရာတွင် အဆင်ပြေစေရေးအတွက် မြေငှားရမ်းခကို ဈေးနှုန်း သက်သာစွာ ဖြင့် ငှားရမ်းခြင်းဖြစ်ကြောင်း ရှင်းလင်းတင်ပြထားပါသည်။

(ခ) Asia Win Manufacturing Company Limited သည် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၂၆ ရက်နေ့တွင် ကျင်းပသော ၁၆/၂၀၁၄ ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အရ သစ်အချောထည် စက်တည်ထောင်ရန် ခွင့်ပြုချက်ရရှိပြီး လိုင်စင် အမှတ်-၅/၂၀၁၄-၁၅ ဖြင့် သစ်စက်အချောထည်လိုင်စင် ရရှိပြီးဖြစ်ပါသည်။

(ဂ) ကုမ္ပဏီမှ စက်ပစ္စည်းကိရိယာများအတွက် အမေရိကန်ဒေါ်လာ ဝ.၈၈၄ သန်း ထည့်ဝင်သည့်အနက်မှ အမေရိကန်ဒေါ်လာ ဝ.ဝ၆၆ သန်းတန်ဖိုးရှိသော စက်ပစ္စည်းများအား ဝယ်ယူထားပြီးဖြစ်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

Asia Win Manufacturing Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်ဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ လှေသင်းအတွင်းဝန် ဦးချိန်လမ်း၊ မြေကွက်အမှတ် - ၃ဝ မြေအကျယ် ၁.၉၁၉ ဧက၊ (၇,၇၆၅.၉၂ စတုရန်းမီတာ)ကေတွင် သစ်ခွဲသားနှင့် သစ်အချောထည် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ။

ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Asia Win Manufacturing Company Limited | (၁) ဦးဇော်ဝင်း ၁၂/မဂတ(နိုင်) ၀၂၅၀၄၂ | အမှတ်- ၁၂၉၊ ဗိုလ်မင်းရောင်လမ်း၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန် |
| | | (၂) ဦးမျိုးမင်းဦး ၁၂/မကန(နိုင်) ၀၈၃၃၉၆ | အမှတ်-၆၊ ဈေးလမ်း၊ စောရန်ပိုင်(တောင်)ရပ်ကွက်၊ အလုံမြို့နယ်၊ ရန်ကုန်။ |
| | | (၃) ဦးဟူစိန်အလီ(ခ) ဦးခင်မောင်မြင့် ၁၂/မဂတ(နိုင်) ၀၈၁၂၁၄ | အမှတ်- ၁၂၉၊ ဗိုလ်မင်းရောင်လမ်း၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန် |
| | | (၄) ဦးတင့်ထွန်းဝေ ၁၂/အလန(နိုင်) ၀၄၀၉၃၅ | အမှတ်-၆၊ ဈေးလမ်း၊ စောရန်ပိုင်(တောင်)ရပ်ကွက်၊ အလုံမြို့နယ်၊ ရန်ကုန်။ |
| | | (၅) ဦးညွန့်ဝေ ၁၂/မဂတ(နိုင်) ၀၃၃၉၇၀ | အမှတ်- ၁၂၉၊ ဗိုလ်မင်းရောင်လမ်း၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန် |
| | | (၆) ဦးနေဝင်း ၁၂/မဂတ(နိုင်) ၀၀၈၈၅၁ | အမှတ်- ၁၂၉၊ ဗိုလ်မင်းရောင်လမ်း၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန် |
| | | (၇) ဦးအောင်နိုင်ဝင်း ၁၂/မဂတ(နိုင်) ၀၈၉၆၇၄ | အမှတ်- ၁၂၉၊ ဗိုလ်မင်းရောင်လမ်း၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန် |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၁-၉၀၁၀၂၀၃

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်-၁၂၉၊ ဗိုလ်မင်းရောင်လမ်း၊ မင်္ဂလာတောင်ညွန့် မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးဇော်ဝင်း

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့် လုပ်ငန်းများ - သစ်ခွဲသားနှင့်သစ်အချောထည် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား
ရက် စွဲ ၊ ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာ လ ၁၈ ရက်

သို့

၅၈၀ 24/11/

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်။

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂. ၁၀. ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက် ၂/ မ - ၂၀၂ / ၂၀၁၄ (၀၁၅၇)

၁။ Asia Win Manufacturing Co., Ltd. သည် ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန် တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ စက်မှုဇုန်(၁)၊ လှေသင်းအတွင်းဝန် ဦးချိန်လမ်း၊ အမှတ်-၃၀ ရှိ မြေအကျယ် (၁. ၉၁၉)ဧကတွင် သစ်ပါးလွှာထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့် ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း မေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၅၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ စက်မှုဇုန်(၁)၊ လှေသင်း အတွင်းဝန် ဦးချိန်လမ်း၊ အမှတ်-၃၀ ရှိ မြေအကျယ် (၁. ၉၁၉)ဧက(၇၇၆၅. ၉၂ စတုရန်းမီတာ)အား တစ်နှစ်လျှင် သိန်း(၁၂၀)နှုန်းဖြင့် နှစ်(၃၀)ငှားရမ်းလုပ်ကိုင်မည်ဖြစ်ပြီး (၅)နှစ်တစ်ကြိမ် ယခင်ငှားရမ်းခ၏ (၁၅%)ထက်မပိုသောနှုန်းထားဖြင့် ငှားရမ်းခပြင်ဆင် ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု တို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံ ဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၁၃. ၁၀. ၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၂/ ၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ် (၂)အရ Asia Win Manufacturing Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Asia Win Manufacturing Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ-ခ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

~~ ၃၁၇၃
17-11-14

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၈၄၇၅ /၂၀၁၄)
ရက်စွဲ ၂၀၁၄ခုနှစ်၊နိုဝင်ဘာလ ၁၁ ရက်

~~ 23
18/11

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက် တောင်းခံခြင်းအား ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁၀-၂၀၁၄ရက်စွဲပါစာအမှတ်၊ ရက-၂/မ-၂၀၂/၂၀၁၄(၀၁၅၆)

၁။ Asia Win Manufacturing Co.,Ltd သည် ရာနှုန်းပြည့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး ၊ ဒဂုံမြို့သစ်ဆိပ်ကမ်းမြို့နယ် ၊ စက်မှုဇုန်(၁) ၊ လှေသင်းအတွင်းဝန် ဦးချိန်လမ်း၊အမှတ်(၃၀)ရှိ မြေအကျယ်(၁.၉၁၉)ဧကတွင် သစ်ပါးလွှာထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ Asia Win Manufacturing Co.,Ltd ၏ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်ဆိပ်ကမ်းမြို့နယ် ၊ စက်မှုဇုန်(၁) ၊ လှေသင်းအတွင်းဝန် ဦးချိန်လမ်း ၊ အမှတ်(၃၀)ရှိ မြေအကျယ် (၁.၉၁၉) ဧကတွင် သစ်အချောထည်စက်ရုံ တည်ထောင်ခွင့်ပြုပါရန် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ လျှောက်ထားမှုအရ သစ်တောဦးစီးဌာနမှ ကွင်းဆင်းစစ်ဆေးရာ စက်ရုံတည်ဆောက်မည့် မြေနေရာသည် ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာမှ ဝယ်ယူပိုင်ဆိုင်ခြင်း ၊ စက်မှုဇုန်တွင် ဆောင်ရွက်မည်ဖြစ်၍ သစ်တောဝန်ထမ်းများ အမြဲမပြတ် သွားရောက်စစ်ဆေးနိုင်ခြင်း၊ ကုန်ကြမ်းသစ်လုံး(၈၆.၄၆၂)တန် စုဆောင်းထားခြင်း ၊ တပ်ဆင်ဆောင်ရွက်ရန်အတွက် စက်ပစ္စည်းများ ၊ မော်တာများ ဝယ်ယူထားပြီးဖြစ်ခြင်း ၊ သက်ဆိုင်ရာဌာန နှင့် ပတ်ဝန်းကျင်မှ ကန့်ကွက်ရန်မရှိ ထောက်ခံထားခြင်း ၊ တန်ဖိုးမြင့် သစ်အချောထည်စက်ရုံ တည်ဆောက်၍ အရည်အသွေးကောင်းမွန်သော အချောထည်များထုတ်လုပ်နိုင်မည်ဖြစ်ခြင်းတို့ကြောင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊စီမံခန့်ခွဲမှုကော်မတီ၏ (၁၆/၂၀၁၄)(၂၆-၈-၂၀၁၄) အစည်းအဝေးဆုံးဖြတ်ချက်အရ သစ်အချောထည်စက်ရုံ တည်ထောင်ခွင့်ပြုပြီးဖြစ်ပါသည်။

၃။ ပေးပို့လာသော အဆိုပြုလွှာတွင် တည်ဆောက်ရေးကာလမှာ (၁)နှစ်ဖြစ်၍ ရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀)နှစ်ဖြစ်ကြောင်း တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် (၂)ကြိမ် သက်တမ်းတိုး ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ၊ မီးဘေးလုံခြုံရေး စီမံချက်များ ၊ အလုပ်သမားများ /ဝန်ထမ်းများ

သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအစီအစဉ်များ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ စီမံကိန်းလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းအကောင်အထည် မဖော်မီ သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုရှိ/မရှိ ကြိုတင်ဆန်းစစ်လေ့လာခြင်း(Initial Environmental Examination - IEE ) လုပ်ငန်းကို ဆောင်ရွက်ထားရှိမည်ဖြစ်ကြောင်း ၊ ရေဆိုးသန့်စင်သည့် စနစ်လည်း အသုံးပြုသွားမည်ဖြစ်ကြောင်း နှင့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (Corporate Social Responsibility - CSR) အတွက် ကုမ္ပဏီ၏ အသားတင် အမြတ်ငွေထဲမှ (၂%)အား ထည့်ဝင်သွားမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို စီစစ်တွေ့ရှိရပါသည်။

၄။ သစ်ပါးလွှာ ထုတ်လုပ်ခြင်းလုပ်ငန်းတွင် လုပ်ငန်းအဆင့်ဆင့်မှ စွန့်ပစ်ပစ္စည်း၊ သစ်အမှုန်အမွှားများနှင့် အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရှိ ရေ၊လေ၊မြေ ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာသည့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှုနှင့်စက်ရုံဧရိယာအနီးပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ပါသည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ရန် သင့်/မသင့် မြန်မာ့သစ်လုပ်ငန်းမှ စီစစ်ရာတွင် အောက်ပါအတိုင်း စီစစ်တွေ့ရှိရပါသည်-

(က) Asia Win Manufacturing Co., Ltd ၏ အဆိုပြုလွှာတွင် သစ်ပါးလွှာ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းဟု ဖော်ပြပါရှိသော်လည်း၊သစ်တောဦးစီးဌာနမှထပ်ဆင့်ခွင့်ပြုသည့် စက်အင်အားစာရင်းတွင် သစ်ပါးလွှာထုတ်လုပ်နိုင်သည့် စက်တစ်စုံတစ်ရာ ပါဝင်ခြင်း မရှိဘဲ ၊ သစ်ခွဲသား ထုတ်လုပ်ရန် စက်များသာ ပါဝင်ပါသည်။

(ခ) အလားတူ သွင်းကုန်လိုင်စင်နှင့် သွင်းကုန်ကြေညာလွှာများအရ တင်သွင်းသည့် စက်ပစ္စည်းများမှာ သစ်ပါးလွှာ ထုတ်လုပ်နိုင်ခြင်း မရှိပါ ။ ကုမ္ပဏီ၏ အဆိုပြုလွှာပါ လုပ်ငန်းအမျိုးအစားတွင် အင်္ဂလိပ်ဘာသာဖြင့် Manufacturing and Marketing of Saw Timber Finished Products ဟု ဖော်ပြပြီး မြန်မာဘာသာဖြင့် သစ်ပါးလွှာ ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်းဟု ဖော်ပြထားသဖြင့် ကွဲလွဲမှု ရှိနေပါသည်။ အဆိုပြုလွှာတွင် ပူးတွဲပါ စက်အင်အားစာရင်းအရ သစ်ခွဲသား နှင့် သစ်အချောထည် ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်း လုပ်ငန်းဟု ဖော်ပြသင့်ပါသည်။သစ်ပါးလွှာ (Veneer) မဟုတ်ပါ။

(ဂ) မြေနေရာ အကျယ်အဝန်းနှင့်ပတ်သက်၍ တပ်ဆင်မည့် စက်အင်အားနှင့်အရွယ်အစားအရ စက်ရုံတည်ဆောက် လည်ပတ်ရာတွင် လုပ်ငန်းသဘာဝအရ မြေဧရိယာ(၁.၉၁၉)ကေမှာ ကျဉ်းမြောင်းမည်ဖြစ်ပြီး၊ ကုန်ကြမ်းထားသိုမှု၊ကုန်ချောခွဲသားသိုလှောင်မှုများတွင် အခက်အခဲ ရှိနိုင်ပါသည်။

၆။ သို့ဖြစ်ပါ၍ Asia Win Manufacturing Co., Ltd ၏ သစ်ပါးလွှာထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) ကုန်ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများရေးဆွဲချမှတ်ခြင်း ၊ လုပ်ငန်းလည်ပတ်ခြင်း နှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းလမ်းအစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(ခ) သစ်ပါးလွှာများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုနှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) ဆောင်ရွက်ရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာတွင် ပါရှိသည့်အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ရေရှည်ကုန်ကြမ်း ရရှိရေးအတွက် ကုမ္ပဏီပိုင်သစ်တောစိုက်ခင်းများ တည်ထောင်ဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနမှ ကျင့်သုံးလျက်ရှိသော သစ်တောဥပဒေ ၊ နည်းဥပဒေများ ၊ လုပ်ထုံးလုပ်နည်း ၊ စည်းမျဉ်းစည်းကမ်းများ ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများ ၊ လုပ်ထုံးလုပ်နည်းများ ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီး/ ပြည်နယ်အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများရယူဆောင်ရွက်ရန်။

22/11

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန

နောက်ဆက်တွဲ-ဂ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ (၂)၂၀၁၄-၂၀၁၅ (၃၅၃၈)
ရက် စွဲ၊ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၃ ရက်

နေ၊ ၃၈၈၄
7.11.14

သို့

ဒါ၊ 15/10/11 ✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂.၁၀.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၂/မ-၂၀၂/၂၀၁၄ (၀၁၅၈)

၁။ Asia Win Manufacturing Co.,Ltd. သည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်ဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ လှေသင်းအတွင်းဝန် ဦးချိန် လမ်း၊ အမှတ်(၃၀)တွင် သစ်ပါးလွှာထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြု ပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ် တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး သစ်ပါးလွှာထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက် ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Asia Win Manufacturing Co.,Ltd. မှ သစ်ပါးလွှာထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက် ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံး

ကန့်သတ်

၁၇

လုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၃.၁၁.၁၄

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန